အကြောင်းအရာ။ **ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Shwe Zabar Co., Ltd. မှ ဆန်အမျိုးအစားခွဲခြင်း၊ ဆန်ပေါင်းတင်ခြင်းနှင့် ဆန်အရောင်တင်ခြင်း တို့အပါအဝင် ဆန်စပါးကြိတ်ခွဲပြုပြင်သည့်ဆန်စက်နှင့် အခြား စိုက်ပျိုးရေး လုပ်ငန်း ဆောင်ရွက်ခွင့် ပြုပါရန် တင်ပြလာခြင်းကိစ္စ**

| | | |
|---|---|---|
| ၁ | ကုမ္ပဏီအမည် | - Shwe Zabar Co.,Ltd. (ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု)<br>- SocieteIndustrielle Agricole Et Commercial D'Outre Mer **(SIACOM)** (France) 80%<br>- XY Trading Co.,Ltd. (**XY**)(Myanmar) 20% |
| ၂ | လုပ်ငန်းအမျိုးအစား | - ဆန်အမျိုးအစားခွဲခြင်း၊ ဆန်ပေါင်းတင်ခြင်းနှင့် ဆန်အရောင် တင်ခြင်း တို့အပါအဝင် ဆန်စပါးကြိတ်ခွဲ ပြုပြင်သည့် ဆန်စက် နှင့် အခြား စိုက်ပျိုးရေး လုပ်ငန်းများ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြ လာခြင်းကိစ္စ |
| ၃ | တည်နေရာ | - အကွက်အမှတ်- ၁၄၃၂၊ တံခွန်တိုင်ကွင်း၊ ကုန်းကြီးရွာ၊ ရွာသာကုန်း အုပ်စု၊ ဟင်္သာတမြို့နယ်၊ဧရာဝတီတိုင်းဒေသကြီး (ယခင်မြန်မာ့လယ်ယာ ထွက်ကုန် ပစ္စည်းရောင်းဝယ်ရေးပိုင်အမှတ်(၁၅) ဖွဲနု ဆီစက်)<br>• အဆောက်အဦမပါ မြေလွတ် ၄၃,၉၀၀ စတုရန်းမီတာ အတွက်ငှားရမ်းခတစ်နှစ်တစ်စတုရန်းမီတာလျှင်US$ ၂ နှုန်း<br>• အဆောက်အဦပါ ၄,၁၀၀ စတုရန်းမီတာအတွက် ငှားရမ်းခ တစ်နှစ် တစ်စတုရန်းမီတာလျှင် US$ ၁၀ နှုန်း |
| ၄ | စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | - US $ ၅.၇၃၈ သန်း နှင့် ကျပ် ၈၅.၀၀၀ သန်း<br>- နိုင်ငံခြားကုမ္ပဏီ SIACOM US $ ၄.၇၄၀ သန်း<br>(ကြိုတင်ချေး ငွေ US $ ၄.၃၄၀ သန်း အပါအဝင်)<br>- မြန်မာကုမ္ပဏီ XY ကျပ် ၈၅.၀၀၀ သန်း<br>- ဖက်စပ်ကုမ္ပဏီလှည့်ပတ်ငွေမှထည့်ဝင်မှု US $ ၀.၉၉၈ သန်း |
| ၅ | လုပ်ငန်းသက်တမ်း | - ၅၀ နှစ်(သက်တမ်းတိုး ၁၀နှစ် နှစ်ကြိမ်) |
| ၆ | တည်ဆောက်ရေးကာလ | - ၉ လ |
| ၇ | ထုတ်လုပ်မည့် အမျိုးအစားများ | Milled Parboiled (ပေါင်းဆန်), Milled White Rice(ဆန်ဖြူ), White Broken Rice(ဆန်ဖြူဆန်ကွဲ) , Parb broken (ပေါင်းဆန် ဆန်ကွဲ),Rice Bran(ဖွဲနု) |
| ၈ | ရောင်းချမည့်နည်းစနစ် | - ပြည်တွင်း ၁၀၀%(ဖွဲနုသာလျှင်)<br>- ပြည်ပ ၁၀၀%(ဖွဲနု မှအပ) |
| ၉ | ကုမ္ပဏီဝင်ငွေ (ပုံမှန်နှစ်) (၆နှစ်မြောက်)<br>ပြည်တွင်း<br>ပြည်ပ | - ကျပ် ၂၉၆.၉၉၀ သန်း<br>- အမေရိကန်ဒေါ်လာ ၂၃.၆၁၇ သန်း |
| ၁၀ | ကုမ္ပဏီ၏ အသားတင်အမြတ် (ပုံမှန်နှစ်) (၆နှစ်မြောက်) | - အမေရိကန်ဒေါ်လာ ၂၂.၉၅၅ သန်း |

| | | |
|---|---|---|
| ၁၁ | နိုင်ငံတော်မှရရှိမည့် အကျိုးအမြတ်<br>- ဝင်ငွေခွန်(၆နှစ်မြောက်) | - ကျပ် ၂၃၄.၇၅၄ သန်း |
| ၁၂ | အရင်းကြေကာလ | - ၅ နှစ် |
| ၁၃ | အရင်းအနှီးအပေါ် အကျိုးအမြတ် ပြန်ပေါ်နှုန်း (IRR) | - ၂၂.၃၉ % |
| ၁၄ | ဝန်ထမ်းအင်အား | - **စုစုပေါင်း ၇၁ ဦး**<br>- ပြည်တွင်း ၆၈ ဦး (အမြင့် ဆုံးလစာမှာ ကျပ်၁,၀၆၂,၅၀၀ နှင့် အနိမ့်ဆုံးလစာမှာ ကျပ် ၈၅,၀၀၀)<br>- ပြည်ပ ၃ ဦး (အမြင့်ဆုံးလစာမှာ US$ ၃,၇၅၀ နှင့် အနိမ့်ဆုံးလစာမှာ US$ ၂,၀၀၀) |

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ရက-၆(ခ)/န-၇၉၇/၂၀၁၃(၆၇၃၆)

ရက်စွဲ၊ ၂၀၁၃ ခုနှစ် ဇွန်လ ၂၄ ရက်

## မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြသည့် အမှာစာ

အကြောင်းအရာ။ **ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Shwe Zabar Co., Ltd. မှ ဆန်အမျိုးအစားခွဲခြင်း၊ ဆန်ပေါင်းတင်ခြင်းနှင့် ဆန်အရောင်တင်ခြင်းတို့အပါအဝင် ဆန်စပါးကြိတ်ခွဲပြုပြင်သည့်ဆန်စက်နှင့် အခြား စိုက်ပျိုးရေး လုပ်ငန်းများ ဆောင်ရွက်ခွင့် ပြုပါရန် တင်ပြလာ ခြင်းကိစ္စ**

၁။ ပြင်သစ်နိုင်ငံ SOCIETE INDUSTRIELLE AGRICOLE ET COMMERCIAL D'OUTRE MER (SIACOM)မှ ၈၀% နှင့် မြန်မာနိုင်ငံ XY TRADING CO.,LTD. မှ ၂၀% အစုရှယ်ယာများထည့်ဝင်ကာ မြန်မာနိုင်ငံတွင် Shwe Zabar Co.,Ltd. တည်ထောင်ပြီး ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် အကွက် အမှတ်- ၁၄၃၂၊ တံခွန်တိုင်ကွင်း၊ ကုန်းကြီးရွာ၊ ရွာသာကုန်းအုပ်စု၊ ဟင်္သာတမြို့နယ်၊ ဧရာဝတီတိုင်း ဒေသကြီးအတွင်း မြေဧရိယာ ၁၂.၀၁ ဧက (၄၈,၀၀၀ စတုရန်းမီတာ)ခန့် နှင့် ယင်းမြေပေါ်ရှိ အဆောက်အဦကို ငှားရမ်းကာ ဆန်အမျိုးအစားခွဲခြင်း၊ ဆန်ပေါင်းတင်ခြင်းနှင့် ဆန်အရောင်တင်ခြင်း တို့အပါအဝင် ဆန်စပါး ကြိတ်ခွဲပြုပြင်သည့် ဆန်စက်နှင့် အခြားစိုက်ပျိုးရေးလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် သို့ အဆိုပြုတင်ပြ လာပါသည်။

၂။ အဆိုပြုချက်နှင့် အတူ ဖက်စပ်စာချုပ်(မူကြမ်း)၊ Shwe Zabar Co.,Ltd. နှင့် မြေပိုင်ရှင်များ ဖြစ်သော ဦးတင်အောင်လတ်၊ ဦးတင်အောင်လေးနှင့် ဦးကျော်ဦးတို့ ချုပ်ဆိုမည့် မြေနှင့် အဆောက် အဦ ငှားရမ်းစာချုပ် (မူကြမ်း)၊ မြေအထောက်အထားအဖြစ် ဟင်္သာတမြို့၊ ကုန်းကြီး ရပ်ကွက်ရှိ ဖွဲ့နုဆီစက်အား ပုဂ္ဂလိကပိုင်ပြုလုပ်ရေးကော်မရှင်မှ ပုဂ္ဂလိကလုပ်ငန်းရှင် ဦးတင်အောင်လတ်၊ ဦးတင်အောင်လေးနှင့် ဦးကျော်ဦးသို့ လွှဲပြောင်းပေးသည့် မှတ်တမ်းများနှင့် အတူ လုပ်ငန်း တည်နေရာ ပြပုံများကိုတင်ပြထားပါသည်။

၃။ လုပ်ငန်း၏ စုစုပေါင်းရင်းနှီးမြှုပ်နှံမှုပမာဏမှာအောက်ပါအတိုင်းဖြစ်ပါသည်-

| ထည့်ဝင်မှု အမျိုးအစား | SIACOM (၈၀ %) US $(သန်း) | XY (၂၀ %) ကျပ်(သန်း) | JV US $(သန်း) | စုစုပေါင်း US $ (သန်း) | စုစုပေါင်း ကျပ် (သန်း) |
|---|---|---|---|---|---|
| ငွေသား | - | ၈၅.၀၀၀ | - | - | ၈၅.၀၀၀ |
| ငွေသား | ၄.၇၄၀ (ကြိုတင်ချေး ငွေ US $ ၄.၃၄၀ သန်း အပါအဝင်) | - | - | ၄.၇၄၀ | - |
| ဖက်စပ်လုပ်ငန်းမှ ထည့်ဝင်မှု | - | - | ၀.၉၉၈ | ၀.၉၉၈ | - |
| **စုစုပေါင်း** | ၄.၇၄၀ | ၈၅.၀၀၀ | ၀.၉၉၈ | ၅.၇၃၈ | ၈၅.၀၀၀ |

၄။ စုစုပေါင်းရင်းနှီးမြှုပ်နှံမှု US$ ၅.၇၃၈ သန်း နှင့် ကျပ် ၈၅ သန်း တွင် နိုင်ငံခြားရင်းနှီးမြှုပ်နှံသူဘက်မှ ချေးငွေ ၄.၃၄၀ သန်း ပါဝင်ပါသည်။ US$ ၂.၁ သန်းကို ၂၀၂၀ ခုနှစ် တွင်လည်းကောင်း၊ US$ ၀.၆၀၀ သန်းအား ၂၀၂၂ ခုနှစ်တွင်လည်းကောင်း၊ US$ ၀.၈၉၀ သန်းအား ၂၀၂၂ ခုနှစ်တွင်လည်းကောင်း၊ US$ ၀.၇၅ သန်းအား ၂၀၂၄ ခုနှစ်တွင်လည်းကောင်း အကြေပေးဆပ်မည်ဖြစ်ပြီး အတိုးနှုန်းမှာ ၆% ဖြစ်ပါသည်။ ရင်းနှီးမြှုပ်နှံသည့် စုစုပေါင်းငွေသားမှ စက်ပစ္စည်းများကို ပြည်ပမှ US$ ၃.၅၆၃ သန်းဘိုး ဝယ်ယူ တင်သွင်းမည်ဖြစ်ပါသည်။

၅။ လုပ်ငန်းဆောင်ရွက်ရန် ပြည်တွင်းဝန်ထမ်း ၆၈ ဦးနှင့် ပြည်ပမှ ၃ ဦး၊ စုစုပေါင်း၇၁ ဦး ခန့်ထားမည်ဖြစ်ပါသည်။ ပြည်တွင်းဝန်ထမ်း အမြင့်ဆုံးလစာမှာ ကျပ် (၁,၀၆၂,၅၀၀) နှင့် အနိမ့်ဆုံးလစာမှာ ကျပ်(၈၅,၀၀၀)ဖြစ်ပြီး နိုင်ငံခြားသားဝန်ထမ်း အမြင့်ဆုံးလစာမှာ US$(၃၇၅၀) နှင့် အနိမ့်ဆုံးလစာမှာ US$(၂၀၀၀)ဖြစ်ပါသည်။

၆။ လုပ်ငန်းသက်တမ်းကာလမှာ (၅၀)နှစ် ဖြစ်ပြီး နှစ်ဖက်သဘောတူညီချက်ဖြင့် နောက်ထပ် (၁၀)နှစ်(၂)ကြိမ် တိုးမြှင့်မည်ဖြစ်ပြီး တည်ဆောက်ရေးကာလ (၉)လ ဖြစ်ပါသည်။

၇။ ယခင် မြန်မာ့လယ်ယာထွက်ကုန်ပစ္စည်း ရောင်းဝယ် ရေးပိုင်အမှတ်(၀၅) ဖွဲနုဆီစက်၏ မြေနှင့် အဆောက်အဦ (အဆောက်အဦအတွင်းရှိ စက်နှင့်စက်ကိရိယာများ အပါအဝင်)ကို တင်ဒါအောင်မြင်သည့်အတွက် လွှဲပြောင်းရယူ ဆောင်ရွက်ခြင်းဖြစ်ပါသည်။ နှစ်စဉ်ငှားရမ်းခမှာ အဆောက်အဦမပါ မြေလွတ် ၄၃,၉၀၀ စတုရန်းမီတာ အတွက် တစ်နှစ် တစ်စတုရန်းမီတာလျှင် US$ ၂ နှုန်းနှင့် အဆောက်အဦပါ ၄,၁၀၀ စတုရန်းမီတာအတွက် တစ်နှစ် တစ်စတုရန်းမီတာလျှင် US$ ၁၀ နှုန်း ဖြင့် စုစုပေါင်း တစ်နှစ် ငှားရမ်းခ US$ ၁၂၈,၈၀၀ ဖြစ်ပါသည်။ ငှားရမ်းခကို ငါးနှစ်တစ်ကြိမ်(၁၅%) ထက် မပိုစေဘဲ တိုးမြှင့်ကောက်ခံသွားမည်ဖြစ်သည်။

၈။ လုပ်ငန်းမှ ထွက်ရှိလာသောဖွဲနုကို ပြည်တွင်းတွင် ၁၀၀% နှင့် ဖွဲနုမှ အပ အခြားထွက်ကုန်များကို ပြည်ပ ၁၀၀% ရောင်းချမည်ဖြစ်ပါသည်။ ပုံမှန်နှစ် (၆နှစ်မြောက်) ထုတ်လုပ်မှုနှင့် ရောင်းဈေးနှုန်းများမှာ အောက်ပါ အတိုင်းဖြစ်ပါသည်-

| စဉ် | အမျိုးအမည် | ထုတ်လုပ်မှု/ရောင်းချမှု | | ရောင်းဈေးနှုန်း | |
|---|---|---|---|---|---|
| | | ပြည်တွင်း (MT/yr) | ပြည်ပ (MT/yr) | ပြည်တွင်း (kyat/ MT) | ပြည်ပ (US$/ MT) |
| (က) | Milled Parboiled (ပေါင်းဆန်) | - | ၂၆,၀၀၀ | - | ၄၈၀ |
| (ခ) | Milled White Rice(ဆန်ဖြူ) | - | ၂၃,၀၀၀ | - | ၄၂၀ |
| (ဂ) | White Broken Rice(ဆန်ဖြူဆန်ကွဲ) | - | ၃,၉၈၇ | - | ၃၂၀ |
| (ဃ) | Parb Broken (ပေါင်းဆန်ဆန်ကွဲ) | - | ၉၁၈ | - | ၂၂၀ |
| (င) | Rice barn (ဖွဲနု) | ၃၉၄၉ | - | ၈၅,၀၀၀ | - |

၉။ လုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ်(၆နှစ်မြောက်)တွင် ကုမ္ပဏီမှရရှိမည့် အကျိုးအမြတ်ခန့်မှန်းခြေမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| | | ကျပ်(သန်း) | US$ (သန်း) |
|---|---|---|---|
| (က) | ဝင်ငွေ | ၂၉၆.၉၉၀ | ၂၃.၆၀၇ |
| (ခ) | အသုံးစရိတ် | ၁၇၉၈၅.၆၆၅ | ၀.၇၀၀ |
| (ဂ) | အသားတင်အမြတ် | (၁၇၆၈၈.၆၇၅) | ၂၂.၉၀၇ |

၁၀။ လုပ်ငန်း၏ အရင်းကြေကာလ မှာ ၅ နှစ် ဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုးအမြတ် ပြန်ပေါ်နှုန်းမှာ ၂၂.၃၉ % ဖြစ်ပါသည်။

၁၁။ ဤလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ် (၆နှစ်မြောက်)တွင် နိုင်ငံတော်မှရရှိမည့် အကျိုးအမြတ်ခန့်မှန်းခြေမှာ ဝင်ငွေခွန် ကျပ် ၂၃၄.၇၅၄ သန်း ဖြစ်ပါသည်။တစ်ဒေါ်လာလျှင် ကျပ် ၈၅၀ နှုန်း ဖြင့် တွက်ချက်ထားပါသည်။

၁၂။ **ရောဝတီတိုင်းဒေသကြီး အစိုးရအဖွဲ့** မှ မြို့ပြစီမံကိန်းအားလည်း ထိခိုက်မှုမရှိနိုင်ပါကြောင်း၊ ဒေသခံများအလုပ်အကိုင် အခွင့်အလမ်းများရရှိနိုင်မည့်အပြင် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှုအား အထောက်အကူဖြစ်စေ နိုင်ပါကြောင်း၊ လူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းမှုအရ ထိခိုက်နိုင်ခြင်းမရှိပါကြောင်းနှင့် ရောဝတီတိုင်းဒေသကြီးအတွက် အကျိုးရှိစေမည့်လုပ်ငန်းဖြစ်ပြီး မြေနေရာရရှိပြီး ဖြစ်ပါသဖြင့် ခွင့်ပြုပေးနိုင်ပါရန် အကြံပြုတင်ပြကြောင်း ထောက်ခံတင်ပြထားပါသည်။ **နောက်ဆက်တွဲ-က**

၁၃။ **လယ်ယာစိုက်ပျိုးရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန** မှ နိုင်ငံတော်အတွက်လိုအပ်နေသော ဆန်စပါးကြိတ်ခွဲစက်လုပ်ငန်း မှန်ကန်ကြောင်း စိစစ်တွေ့ရှိရပါသဖြင့် အဆိုပြုချက် လိုအပ်ချက်အပေါ် အမြန်ခွင့်ပြုနိုင်ရေးကို ထောက်ခံတင်ပြထားပါသည်။ **နောက်ဆက်တွဲ-ခ**

၁၄။ **စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာန** မှ အဆိုပြုလုပ်ငန်းအတွက် မြေဧက လုံလောက်မှုရှိသည်ဟု သုံးသပ်ရရှိပါကြောင်း၊ နိုင်ငံတော်အတွက် အကျိုးကျေးဇူးများမည့် အပြင် ဒေသခံ ပြည်သူများအတွက် အလုပ်အကိုင်အခွင့်အလမ်း ရရှိနိုင်သည့် လုပ်ငန်းဖြစ်ပါကြောင်း၊ ပြုတ်ပေါင်းစက် ၏ Capacity၊ ဆန်ကြိတ်ခွဲ ထုတ်လုပ်စက်၏ Capacity၊ Processing Plant ၏ Capacity များဖော်ပြသင့်ပြီး၊ သိုလှောင်မည့် ပမာဏ ထည့်သွင်းတင်ပြ သင့်ပါကြောင်း၊ လုပ်ငန်းအပေါ် Layout Plan ပုံဖြင့်တင်ပြသင့်ပြီး ပြုတ်ပေါင်းစက်၏ Detail Drawing တင်ပြသင့်ပါကြောင်း၊ တည်ဆောက်မည့် စက်များ၏ Capacity အား တင်ပြသင့်ပါ ကြောင်း၊ တည်ဆောက်ထားသည့် စက်အင်အားနှင့် ကုန်ချောထုတ်လုပ်မှု ညီညွတ်မျှတမှုရှိ သည်ဟု သုံးသပ်ရရှိပါကြောင်း၊ ကုန်ကြမ်းဈေးနှုန်းနှင့် ကုန်ချောဈေးနှုန်းမှာ သင့်တင့်မျှတမှုရှိပါကြောင်း သဘောထား ပြန်ကြားထားပါသည်။(တည်ဆောက်မည့်စက်များ၏ Capacity, detailed drawing နှင့် လုပ်ငန်းအပေါ် Layout Planပုံ တို့ကို ကုမ္ပဏီမှ ရှင်းလင်းတင်ပြထားပါသည် ) **နောက်ဆက်တွဲ-ဂ**

၁၅။ **ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန** မှ ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေး ထိခိုက်ပျက်စီးမှုများကို ရှောင်ရှားနိုင်ရန်အတွက် လုပ်ငန်းလည်ပတ်ခြင်းနှင့် ထုတ်လုပ်ခြင်းအဆင့်ဆင့်တို့ စီမံကိန်းဆိုင်ရာအချက်အလက်များ ပြည့်စုံစွာဖော်ပြပြီးလုပ်ငန်း ဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ကို ထိခိုက်မှုအနည်းဆုံးဖြစ်စေမည့် အစီအစဉ်များရေးဆွဲပြီး လိုက်နာ ဆောင်ရွက်ရန်နှင့် ကနဦး ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ချက် (Initial Environmental Examination-IEE) အစီရင်ခံစာတင်ပြရန်၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေးစီမံချက် (Environmental Management Plan-EMP) ရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါ လုပ်ငန်းများကို အပြည့်အဝ အကောင်အထည်ဖော်ဆောင်ရွက်ရန်၊ စက်ရုံမှထွက်ရှိလာမည့် အနံ့အသတ်များ၊ အမှုန်များ၊ စွန့်ပစ်အရည်များနှင့် အခိုးအငွေ့များအား သတ်မှတ်စံချိန် စံညွှန်းနှင့် အညီ စွန့်ပစ်နိုင်ရေးအတွက် အဆင့်မြင့် နည်းပညာကိရိယာများ အသုံးပြုဆောင်ရွက်ရန်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင် ရာမူဝါဒ၊ ဥပဒေ၊ နည်းဥပဒေ စည်းမျဉ်း စည်းကမ်းနှင့် ညွှန်ကြားချက်များကို တိကျစွာလိုက်နာဆောင်ရွက်ရန် သဘောထားပြန်ကြားထားပါသည်။ **နောက်ဆက်တွဲ-ဃ**

၁၆။ ငွေကြေးအထောက်အထားအဖြစ် XY TRADING CO.,LTD. သည် သည် MFFB ဘဏ်တွင် (၁-၃-၂၀၁၃) မှ(၅-၃-၂၀၁၃) အထိ US$ ၅၄၃,၈၆၅.၆၇ ရှိကြောင်း နှင့် ပြင်သစ်နိုင်ငံတွင်ရှိသော မိခင်ကုမ္ပဏီဖြစ်သည့် MARBOUR မှ SIACOM ကုမ္ပဏီအတွက် ငွေကြေးအထောက်အပံ့ပေးမည် ဖြစ်ကြောင်း တင်ပြထားပါသည်။ ပြင်သစ်နိုင်ငံတွင် SIACOM ကုမ္ပဏီဖွဲ့စည်းထားကြောင်း အထောက် အထား တင်ပြထားပါသည်။

၁၇။ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေ အခန်း(၁၂)အပိုဒ် (၂၇)ပါ အခွန်ဆိုင်ရာကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုရန် တင်ပြထားပါသည်။

၁၈။ အဆိုပါလုပ်ငန်းသည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ၁/၂၀၁၃ဖြင့် ထုတ်ပြန်ထားသည့် နိုင်ငံသားနှင့် ဖက်စပ်စနစ်ဖြင့်သာ ဆောင်ရွက်ခွင့်ပြုသည့် စီးပွားရေးလုပ်ငန်း အမျိုးအစားများ စာရင်းတွင်ပါဝင်ပြီး နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေအရ ခွင့်ပြုနိုင်သော လုပ်ငန်း အမျိုးအစားဖြစ်ပါသည်။

၁၉။ သို့ဖြစ်ပါ၍ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Shwe Zabar Co., Ltd. မှ ဆန်အမျိုးအစားခွဲခြင်း၊ ဆန်ပေါင်းတင်ခြင်းနှင့် ဆန်အရောင်တင်ခြင်းတို့ အပါအဝင် ဆန်စပါးကြိတ်ခွဲ ပြုပြင်သည့်ဆန်စက်နှင့် အခြား စိုက်ပျိုးရေး လုပ်ငန်းလုပ်ဆောင်ခွင့်ပြုရန် တင်ပြလာခြင်းအပေါ် လမ်းညွှန်မှုခံယူအပ်ပါသည်။

ဥက္ကဋ္ဌ(ကိုယ်စား)
(အောင်နိုင်ဦး၊ ညွှန်ကြားရေးမှူးချုပ်)

## ကုမ္ပဏီဒါရိုက်တာနှင့် အစုရှင်များ၏ နေရပ်လိပ်စာစာရင်း

| စဉ် | ကုမ္ပဏီအမည် | ဒါရိုက်တာ/ အစုရှင်များ၏ အမည် | ဒါရိုက်တာ/ အစုရှင်များ၏ ဆက်သွယ်ရန်လိပ်စာ |
|---|---|---|---|
| ၁။ | Shwe Zabar Co., Ltd. | SOCIETE INDUSTRIELLE AGRICOLE ET COMMERCIAL D'OUTRE MER (SIACOM)<br>Represented by-<br>(၁) Mr. Van ARENDONK Gerard<br>Chairmen<br>French<br>P.P No.11AP84303 | <br><br><br><br>Laie aux Faucons 7 1300 Waver Belgium |
| | | XYT RADING CO.,LTD.<br>Represented by-<br>(၂) U Tin Aung Latt<br>Director<br>Myanmar<br>14/Ha Ta Da (Ei)000043 | <br><br>H-24,Padauk Street, Bayin Naung Broker' Sales Center Ward (1) Mayangone Township, Yangon |

၁။ ဆက်သွယ်ရမည့် တယ်လီဖုန်းနံပါတ်၊ ဖက်စ်နံပါတ် - 

၂။ ဆက်သွယ်ရမည့် လိပ်စာအပြည့်အစုံ - ရပ်ကွက်(၁)၊ ပိတောက်လမ်း၊ ဘုရင့်နောင်ပွဲစားတန်း၊ မရမ်းကုန်းမြို့နယ်၊ ရန်ကုန်မြို့

၃။ ဆက်သွယ်ရမည့် ပုဂ္ဂိုလ်အမည်၊ ရာထူး - ဦးတင်အောင်လတ်၊ ဒါရိုက်တာ

၄။ ကုမ္ပဏီအနေဖြင့်ဆောင်ရွက်သည့်လုပ်ငန်းများ - ဆန်အမျိုးအစားခွဲခြင်း၊ ဆန်ပေါင်းတင်ခြင်းနှင့် ဆန်အရောင်တင်ခြင်းတို့ အပါအဝင် ဆန်စပါးကြိတ်ခွဲ ပြုပြင်သည့်ဆန်စက်နှင့် အခြားစိုက်ပျိုးရေး လုပ်ငန်း

၅။ ကုမ္ပဏီမှတ်ပုံတင်အမှတ်/ နေ့စွဲ - -

၆။ ကုမ္ပဏီမှတ်ပုံတင်ကုန်ဆုံးသည့်နေ့စွဲ - -

၇။ ဘဏ်အမည်နှင့် ဘဏ်စာရင်းအမှတ် - -